(နိုင်လင်း)

ကျနော့်နာမည် နိုင်လင်း ၊ ကျနော် ရုပ်ချောစာရင်းမှာ မပါရှိပါ။ "မင်းက ရုပ်မချောပေမယ့် ချစ်စရာ ကောင်းတယ်ကွ" ထိုသို့သော သူငယ်ချင်းများ၏ မှတ်ချက်ကိုတော့ ကျနော်အမြဲ သိခဲ့ရသည်။ ကျနော်သည် ချစ်သူတစ်ယောက်ရရှိလိုက်သည်။ ထိုချစ်သူသည် ပိုက်ဆံရှိသော လူတစ်ယောက်ဖြစ်သည်။ ကျော်မင်းခ တဲ့ နာမည်ဆန်းသလို လူကလဲ လှပသည်။ သူ့ကို ကျနော်ချစ်မိသည်။ ကျော်မင်းခကို ကျနော်ချစ်သည်။ ကျနော် အသက်ထက်ကိုပင် လွန်စွာချစ်မိသည်။ သူသည်လည်း ကျနော့်လိုဖြစ်ပါစေဟု အမြဲ ဆုတောင်းမိသည်။ ကျော်မင်းခသည် ကျနော်ကို ဘာကြောင့် ချစ်သည်ကို ကျနော် တစ်ခါမှ မမေးခဲ့သလို ကျနော်တို့ ဘာကြောင့် ချစ်ကြသည်ကိုလဲ မစမ်းစစ်မိပါ။

"နိုင်လင်း မင်း ဘာကြောင့် ငါ့ကို ချစ်တာလဲ"

ကျော်မင်းခ မေးလာလျှင် ကျနော်အမြဲ လွယ်ကူစွာဖြေပေးခဲ့တာကတော့

"မင်းက ချစ်စရာကောင်းသလို ချောလို့ ချစ်တာဖြစ်မယ်၊ ပြီးတော့

မင်းမှာ ကြင်နာတတ်သည့် နှလုံးသားရှိလို့၊ မင်းက ရုပ်ချောသလို စိတ်ထားလဲ ကောင်းလို့ အဲ့ဒါတွေကြောင့် ချစ်မိတာ”

ကျနော် အဲ့လိုဖြေတိုင်း ကျနော် ခေါင်းကို ပွတ်ပြီး သူ့ရင်ခွင်ထဲ ဆွဲသွင်းတတ်တဲ့ ကျော်မင်းခကို ကျနော်ချစ်တာ မလွန်ဘူး ထင်တယ်နော်။

“နိုင်လင်း”

“အင်း…ပြောလေ”

“ငါ..မင်းကို ဝန်ခံစရာရှိတယ်”

“ဘာကိုတုံး… မင်းပြောစရာရှိတာ ပြောပါ မင်းစကားပလ္လင်ခံတာက ငါ့အတွက် အကြောက်တရားဖြစ်စေတယ်”

“ဟုတ်တယ် ငါမပြောလို့လဲ မပြီးဘူး ပြောမှ ဖြစ်မယ်”

“အင်း..”

ကျော်မင်းခဆီက စကားများက ကျနော်အတွက် စိုးထိတ်စေသည့် အသွားလာများ ဖြစ်စေခဲ့ပြီးလား။ ကျနော့်ကို လမ်းခွဲဖို့ထိ ပြောလာပြီးလား၊ ကျနော် ကြောက်လာသည်။

"ငါလေ မင်းအပြင် နောက်တစ်ယောက် နဲ့လဲ ဖြစ်နေတယ်"

"ဟင်.."

ကျနော် ဘာပြန်ပြောရမှန်းမသိတော့။

"ငါလေ မင်းနဲ့ အာ့ဒီတစ်ယောက် နှစ်ယောက်လုံးကို ချစ်တယ်၊ ပြီးတော့ နှစ်ယောက်လုံးနဲ့လဲ မခွဲနိုင်ဘူး"

"ဘယ်လို… ငါနားလည်အောင် နည်းနည်းလောက်ရှင်းပေးပါ"

"သူ့နာမည်က စိုင်းမွန်လှ၊ နေတာက မန္တလေးမှာ၊ ငါနဲ့က ကျောင်းနေဖက်တွေလေ"

"ဒါဆို… ငါနဲ့ မတွေ့ခင်ကတည်းက မင်းတို့က ချစ်နေကြတာလား"

"ဟုတ်တယ်လို့တော့ ပြောချင်တယ်၊ သူကလေ ငါ့ကို မင်းချစ်သလို ချစ်တယ်၊ ခွင့်လွှတ်ခြင်းတွေနဲ့ အမြဲနေတယ်၊ ကြာလာတော့ ငါလေ မင်းတို့ နှစ်ယောက်နဲ့ တူတူနေချင်တယ် မခွဲချင်ပါဘူး"

ကျနော် တဒင်္ဂ တွေဝေသွားသည်။ ကျနော်ရင်ထဲ ဘလောင်ဆူသွားသည်။ မျက်ဝန်းမှလဲ မျက်ရည်များ သီးလာတော့သည်။

ပထမဦးဆုံး ကျနော်ရင်ကို စမ်းစစ်ကြည့်တော့ ကျနော် ကျော်မင်းခကို မစွန့်လွှတ် နိုင်ဘူးဆိုတာကိုပဲ သိရှိလာတယ်။

"မင်း စိတ်မကောင်းဖြစ်သွားလား"

"ဟင်..."

"ငါ..တောင်းပန်ပါတယ် ငါ့ကြောင့် ငါချစ်ရသူတွေကို ငါဆုံးရှုံးမှာကြောက်တယ်၊ ပုန်းလျှိုး ကွယ်ပုက်ပြီးလဲ မနေချင်ဘူး၊ အားလုံးနဲ့ ချစ်ချစ်ခင်ခင် နေချင်တယ်၊ မိသားစု တစ်ခုလိုပေါ့"

ကျနော့်အကြောက်တရားက ကျနော်က ဒုတိယလူ ၊ နှစ်ယောက်ထဲက တစ်ယောက်ကို ရွေးဆိုရင် ကျနော်ပဲ ကျန်ခဲ့မည်။ ဒါကို သိသိကြီးဖြင့် ကျနော် ဖွတ်မမိုက်ချင်တော့၊ ကျနော် အချစ်ကို ကျနော် ပိုင်နိုင်စွာ တွယ်နိုင်အောင် ကျနော်ကြိုးစားရမည်။ ထိုသို့ဆိုလျှင်....

"မဟုတ်ဘူး၊ ငါက မင်းချစ်တာထက်ကို ပိုချစ်တယ်၊ မင်းပျော်နေရင် ငါက ဘာဖြစ်ဖြစ် ပေးဆပ်ရဲတယ်၊ ဒါကြောင့် ငါ့ကို ရုပ်သေးရုပ်လို့ သဘောထားပြီးတော့ နေလိုက်၊ အဓိက မင်းလုပ်ရမှာက ဟိုတစ်ယောက်ကိုပဲ ဘယ်သူ နာမည်က.."

"စိုင်းမွန်လှ.."

"အေး...စိုင်းမွန်လှကိုပဲ စည်းရုံးပါ။ မင်းကို ငါချစ်တယ် ထိုကြောင့်လဲ မင်းလုပ်သမျှကို ငါလက်ခံတယ်၊ ဒါပေမယ့် မင်းငါ့ကိုတော့ သူ့ရဲ့ ဖုန်းနံပတ်ပေး"

"ဟင်....ဘာလုပ်မလို့တုံး..."

"ငါ့ဟာငါ သူနဲ့ မိတ်ဆက်ထားမယ်လေ"

"ဖြစ်ပါ့မလား... "

"ဘာလဲ ငါ့ကို မယုံဘူးလား... ငါ့အထာနဲ့ ငါ ရင်းနှီးအောင်လုပ်ထားမယ်"

"ငါ မိတ်ဆက်ပေးမယ်လေ"

"အာ့လိုဆို သူက မင်းနဲ့ ငါကြားမှာ ဆိုတဲ့ အနေအထားရ ခင်သွားတာပဲ ဖြစ်မယ်လေ ၊ လွတ်လပ်စွာ ရင်းနှီးခြင်းကို သူ့ဘက်က ဘယ်လိုလုပ်မလဲ၊ သူက သနားပါတယ်၊ ပြီးတော့ မင်းတို့ရဲ့ ရင်းနှီးတဲ့ သံယောဇဉ်က နည်းတော့သည့် နှစ်တွေမှ မဟုတ်တာ"

"အင်း..."

"ပြီးတော့ မင်းပြောတာထက် သူ့ကို ငါက တဖက်လှည့်နဲ့ ရင်းနီးအောင် လုပ်နိုင်တာ၊ ငါ့ကိုယုံစမ်းပါ။ ပြီးတော့ ဒီအကြောင်းတွေ သိသွားရင် သူကို သနားမိတယ်၊ ခံနိုင်ရည်ရှိပဲ့မလားပေါ့"

"မင်းက သဘောထားကောင်းတယ်နော်၊ ငါ့ချစ်သူအဖြင့် မင်းကို ရွေးချယ်တာ သိပ်တန်းဖိုးရှိသွားတယ်၊ ပြီးတော့ မင်းအတွက် မင်းမကြည့်ပဲ ဘာမှမသိသေးတဲ့ သူဘက်က မင်းရပ်တည်တာကို အရမ်းသဘောကျတာပဲ၊ ထို့ကြောင့်လဲ မင်းကို ငါချစ်သွားတာ ဖြစ်မှာပါ"

"ကျော်မင်းခ ဆိုတဲ့ ချစ်သူလေးကြောင့်ပေါ့လေ... ဟဲဟဲ "

ကျနော် ဟန်ဆောင်ပြုံးနေပေမယ့် ကျနော်ရင်ထဲမှာတော့ မနာလို ဂန်တိုစိတ်များ ဖုံးလွှမ်းနေတာကိုတော့ ကျနော်ကိုယ် ကျနော် ဟန်ဆောင်လို့မရပါဘူး။

ထိုရက်က စပြီး ကျနော် စိုင်းမွန်လှဆီကို နေ့တိုင်း ဖုန်းဆက်ပါ တော့သည်။

x x x x x x x x x x

ကျနော့်အမည် ကျော်မင်းခ ၊ ကျနော့်မှာ ငယ်ကတည်းက ထူးဆန်းစွာ တစ်ဖက်သားအပေါ် သံသယများစွာ ကြည့်တတ်သူ ဖြစ်သည်။ လိုချင်ပြီဆိုလျှင် ရအောင်လုပ်တတ်သည့် ဉာဉ်ဆိုးက အတ္တကို အမြဲပြနေသည်။ လူဆိုသည်က ခက်သားလား၊ မှားမှန်သိပေမယ့် အတ္တရဲ့ ကျေးကျွန်တစ်ယောက်လို ခံမင်နေတတ်တာ သူ့ အတွက် မကောင်းပါဘူး၊ သို့ပေမယ့် ပြင်ဖို့ သူ့မှာ အားနည်းနေသည်။ ယခုလည်း ကျနော်လုပ်ရပ်က မှားနေသည်ကို သိပေမယ့် ဇွတ်တိုး ချင်နေသည်။ စိတ်ကူးထဲတွင် ပျော်ကြည့်သည်။ စိတ်ကူးထဲမှာတော့ အပြည့်အဂ အပြစ်နာဆာကင်းစွာ ပျော်ရွှင်နေပါသည်။

ကျနော်သည် မန္တလေးသားဆိုပေမယ့် ရန်ကုန်မြို့ကြီးကို တက်လာကာ စီးပွားရေး သင်တန်းစုံများကို လိုက်တက်နေသည်။ တက္ကသိုလ်ကို လည်း သူ့လို ပိုက်ဆံရှိသားအတွက် ပြောင်းရတာ လွယ်ကူတာ မဆန်း လှပါ။ သူ ရန်ကုန်ရောက်လာတော့ နိုင်လင်းနှင့် ဇတ်လမ်းဆက်သည်။ နိုင်လင်းသည် ပျော်ပျော်နေတတ်သည်။ သူ့အဖွဲ့တွင် လောင်စိန်တစ် ယောက်လိုပင် ၊ အမြဲ ရယ်စရာများပြောနေတတ်သူ၊ တစ်ဖက်သားကို သနား ငဲ့ညှာတတ်သူလို့ ကျနော်မြင်သည်။ ကျနော်သူ့ကို အမျိုးမျိုး စမ်းသပ်ကြည့်သည်။ ချစ်မှုရေးရာ အရာအားလုံးပေါ့၊ ကျနော့်ကို ချစ်တာလား၊ ကျော်မင်းခဆိုတဲ့ သူဌေးသားကို ချစ်တာလား ဆိုတာ အမြဲ စမ်းသပ်သည်။

"ငါ့ကို ဘာကြောင့် ချစ်တာလဲ"

မေးခွန်းမျိုးကို မကြာခဏ မေးတတ်သည်။

ကျနော်ကို ချစ်သည့်၊ ကျနော်ကလဲ ချစ်နေဆဲ ဖြစ်သည့် စိုင်းမွန်လှကို ကျနော်လဲ မပြတ်နိုင်ပါ။ စိုင်းမွန်လှသည် ငယ်ငယ်ကတည်းက ကျနော် အပေါ်မှာ အနွံတာခံကာ ပေါင်းသင်းနေလာသည့် သူငယ်ချင်း ကောင်းပင် ဖြစ်ပါသည်။ စိုင်းမွန်လှကို ကျနော် ချစ်ရေးဆိုတော့ တည်တည်ငြိမ်ငြိမ်ပင် ကျနော့်အားတုန့်ပြန်ခဲ့သည်။

"ဘာကြောင့် ငါ့ကို ချစ်တာလဲ မင်းခ.. တကယ်တော့ မင်းအတွက် အချစ်မရှားပါဘူး၊ မင်းက ပိုက်ဆံလည်းရှိ ရုပ်လေးလည်းချောတာ၊ ငါ့ထက်သာသူတွေ တစ်ပုံကြီးပါ၊ ငါမဟုတ်ပဲ လမ်းကြောင်းမှန်မှန် လျှောက်ပါလားကွာ"

လူကြီးလို လေသံမျိုးဖြင့် ကျနော်အား အမြဲ ဆိုဆုံးမတတ်သည့် ကျနော် ချစ်သူလေးကိုလည်း ကျနော် မခွဲနိုင်ပါ။ ထို့အတူ ကျနော် အပေါ် နားလည်ပေးနိုင်သော ကျနော်ချစ်သူလေး နိုင်လင်းကိုလည်း မခွဲနိုင်ပါ။ နောက်ဆုံးတော့ ကျနော် စဉ်းစားလိုက်သည်။ သူတို့ ၂ ယောက် ရွေးချယ်မှုကိုပဲ စောင့်တော့မည်ဟု၊ သူတို့ နှစ်ယောက်ထဲက တစ်ယောက်ကတော့ ကျနော်အတွက် ချစ်သူကောင်းတစ်ယောက် ဖြစ်မှာပါ၊ သို့တည်းမဟုတ် သုံးယောက်လုံး အတူတကွ နေထိုင်ကြ မည်ဆိုလျှင် မည်မျှ ပျော်စရာကောင်းမည်နည်း။

ကျနော် စိတ်ကူးတွေ ယဉ်လာသည်။ မဖြစ်နိုင်တာ ဖြစ်နိုင်တာ အသာထား ကျနော် ချစ်သူတွေနဲ့ တူတူနေချင်သည်။ ထို့ကြောင့် ကျနော် သုံးယောက်လုံး နှင့် ဆုံစည်းရန် ဖန်တီးပါတော့သည်။ ထိုရက်မှ စတင်ကာ ကျနော့်အတွေ့များကို ကျနော် အရောင်ဆိုး တော့သည်။

x x x x x

(စိုင်းမွန်လှ)

ကျနော်ဘဂက ရိုးရှင်းသည်။ ကျနော်မိဘများကလည်း မန္တလေး ဇာတိဖြစ်သလို ကျနော်လည်း မန္တလေးသား တစ်ယောက်ပဲဖြစ်တော့ သည်။ ကျနော် ငယ်ငယ်ကတည်းက ကျနော်ချစ်လွန်းလှသော ချစ်သူ တစ်ယောက်ရှိပါသည်။ သူ့နာမည်က ကျော်မင်းခ၊ ကျနော်သူ့ကို ချစ်သည်။ နားလည် ခွင့်လွှတ်နိုင်အောင် ကျနော်အမြဲပင် ကြိုးစားနေ ထိုင်ပါသည်။ ကျနော်ရဲ့ ချစ်သူကို ကျနော် အကြွင်းမဲ့ယုံကြည်စွာ ချစ်မြတ်နိုးပါသည်။ ကျနော် သူ့ကို ဘာကြောင့် ချစ်လဲ မေးလျှင် သူပျော်ရွှင်လျှင် ကျနော် ပျော်သည်။ သူစိတ်ညစ်နေလျှင် ကျနော် လဲ စိတ်ညစ်သည်။ သူဟာ ကျနော်အတွက်တော့ အရိပ်လေးပါပဲ၊ ကျနော် ချစ်ခြင်းများသည် သူ့အပေါ်တွင် ငြိမ်းချမ်းခြင်းများစွာနှင့် ချစ်သူ တစ်ယောက်လို ချစ်ပါသည်။

မင်းခ ရန်ကုန်တွင် ကျောင်းသွားတက်တော့ ကျနော့်မှာ မင်းခလို မချမ်းသာသည့်အတွက် အဖေးသင် စာပေစာယူဖြင့်သာ ဘွဲ့ယူရန် နှင့် မိဘတွေကို ကူညီလုပ်ကိုင်ကာ တစ်ဖက်တစ်လမ်း ဂင်ငွေ ရှာကာ မန္တလေးတွင် နေခဲ့ပါသည်။

မင်းခ မန္တလေးတွင်ရှိလည်း ကျနော် သူနှင့် အတူတူ ကျောင်းတက် နိုင်မည် မဟုတ်ပါ။ မည်သူက ချစ်သူနဲ့တော့ ဘယ်ခွဲချင်မလဲနော်၊ သို့ပေမယ့် အောင်မြင်မှု ပန်းတိုင်းရောက်ဖို့အတွက်တော့ ကျနော် မင်းခနှင့် ခဏ ဂေးနေရမည် မဟုတ်လား။

ဤရက်ပိုင်း အတွင်း ထူးဆန်းစွာ ကျနော်ဆီကို ဖုန်းတစ်လုံး များဝင်လာကာ အကြောင်းရာ ဆက်နေမိသည်။ ထိုအကြောင်းရာကို ကျနော် မင်းခနှင့် ဖုန်းပြောဖြစ်တိုင်း ပြောပြတတ်သည်။ ထူးဆန်းစွာ မင်းခကတော့ ထိုကိစ္စကို မသိသလိုနေသည်။

ကျနော်နှင့် နေ့တိုင်း ဖုန်းပြောနေသည့် ကောင်လေး အမည်က ခန့်လွန်းမောင် တဲ့ နာမည်လေးက လှသည်။ သူ့ပုံတော့ မမြင်ဖူးပါ။ ဖုန်းထဲမှာ နေ့တိုင်းနီးပါး ဖုန်းပြောဖြစ်ကြတော့ သံယောဇဉ်တော့ ဖြစ်မိသည်။ ကျနော် အတွက်ကတော့ ထူးဆန်းနေသည်။ သူ့ဖုန်းကို တစ်ခါတစ်ရံတွင် ကျနော် စောင့်စားနေမိသည်က အမှန်ပါ။ ကျနော် မညင်းပါဘူး၊ ကျနော် ထိုအကြောင်းရာများကို မင်းခကို ပြောပြ တတ်သည်။ မင်းခကတော့ ဘာမှ မှတ်ချက်မပေး ထိုကိစ္စနှင့် ပက်သက်ပြီးတော့ နှုတ်ဆက်နေတတ်သည်။

"ဟဲလို...."

"ဟုတ်ကဲ့ အမိန့် ရှိပါခင်များ"

"မွန်လှလား..."

"ဟုတ်ကဲ့ မွန်လှပြောနေပါတယ် ကိုခန့်လွန်း"

"မွန်လှကို ... ကိုယ်ချစ်တယ်"

"ခင်များ.."

"ဟုတ်တယ် မွန်လှကို ကိုယ်ချစ်တယ်"

"မဖြစ်နိုင်တာဗျာ... ပြီးတော့ ကျနော်မှာလဲ ချစ်သူရှိတယ်ဗျ"

"ဘာဖြစ်လို့ မဖြစ်နိုင်ရတာလဲ... ကျနော်ကို အသေသတ်တာလား၊ ကျနော်မှာတော့ ခင်များလေးကို ချစ်လိုက်ရတာ၊ ခင်များလေးနဲ့ မခွဲနိုင်ဘူး၊ ကျနော်ကို ပြန်ချစ်ပါ ၊ ခင်များ ပြန်မချစ်ရင် ကျနော်ကိုယ် ကျနော် အသေသတ်ပစ်မယ်"

"မဖြစ်နိုင်ဘူးနော် ဘာမှလဲ မဆိုင်ဘူး ကျနော်ကို အကျပ်မကိုင်ပါနဲ့ ။ ကျနော်ချစ်သူကို ကျနော် သစ္စာစောင့်ရမယ်လေ"

"ခင်များချစ်သူက ကျော်မင်းခ မဟုတ်လား"

"ဟင်..... မင်း...ဘယ်လို....ဘယ်လို သိတာလဲ"

"ကျောမင်းခကို ခင်များမေးကြည့်လိုက်လေ ခင်များအပြင် နောက်တစ်ယောက်ဆိုတာ ကျော်မင်းခ ဆီမှာ ရှိနေတယ်၊ ကျနော် ခင်များအကြောင်းကို တစ်ဖက်လှည့်နဲ့ စုံစမ်းလိုက်တာ ၊ ခင်များလေး ကို သနားလို့ ပြီးတော့ ခင်များလေးပုံကို မြင်ပြီး အရမ်းချစ်သွားလို့ ဒါက ခင်များလေးကို ကိုယ်ချင်းစာနာ သနားလို့ပါ။ ပြီးတော့ ခင်များ

လေး ချစ်သူက ခင်များလေးပေါ် သစ္စာမရှိတာကို ခင်များလေး ခံနေရတာ မကြည့်ရက်လို့ပါ"

"မဖြစ်နိုင်တာ... ကျနော်မယုံဘူး..."

"အင်းပေါ့ဗျာ ... ကျနော်ကတော့ ခင်များလေးကို ချစ်လွန်းလို့ ခုလိုပြောလိုက်တာ ၊ ကျနော်ခု ဖုန်းချလိုက်မယ် ၊ ည ၁၂ ကျရင် ကျနော်ကို ဖုန်းပြန်ခေါ် ကျနော်သေရင် ခင်များလေး ကြောင့်ပဲ"

ပြောပြီးပြီးချင်း ဖုန်းချသွားသည့် ခန့်လွန်းမောင်ကြောင့် ကျနော် စိတ်များ နောက်ကျိသွားသည်။ ထိုနောက် ကျနော် ကျော်မင်းခ ကို ဖုန်းဆက်လိုက်တော့ မင်းခမညင်းဘူး၊ မှန်တယ် ချစ်သူနာမည်က နိုင်လင်းတဲ့ ကျောင်းတူတူ တက်နေတာတဲ့၊ ကျနော် ဂမ်းနည်း သွားသည်။ နောက်ဆုံး ကျနော်မင်းခကို မေးလိုက်သည်။

"မင်း ဘယ်လိုဆုံးဖြတ်ထားလဲ"

"မင်းဆုံးဖြတ်ချက်ကို ငါနာခံမယ်"

"သေချာတယ်နော်"

"သေချာတယ်"

"ကောင်းပြီး မင်းရယ် မင်းချစ်သူရယ် မန္တလေးလာခဲ့၊ ငါတို့ တွေ့ဆုံ ကြတာပေါ့"

"အိုခေ... နောက်တစ်ပတ်ထဲ လာခဲ့မယ်"

"အင်း..."

ကျနော် နာကျင်နေတာကို မင်းခ မမြင်ဘူးလေ၊ ကျနော် ည ၁၂ နာရီထိ မစောင့်တော့ဘူး၊ ကျနော် ခန့်လွန်းမောင်ဆီ ဖုန်းခေါ်လိုက်တယ်။

"ငါမင်းနဲ့ တွေ့ချင်တယ် မွန္တလေးကို နောက်တစ်ပတ်ထဲဆင်းလာခဲ့ပါ"

"ငါကြားချင်တာ အဲ့ဒါမဟုတ်ဘူး၊ မင်းဆီက ချစ်ရင် ချစ်တယ်၊ မုန်းရင် မုန်းတယ်ဆိုတာပဲ ကြားချင်တာ"

"ငါ အခု မဖြေနိုင်သေးဘူး မွန္တလေးကို အရင်လာခဲ့.."

"ရတယ်လေ မင်း မဖြေနိုင်ရင် ဒီည ငါဆိုတဲ့ ခန့်လွန်းမောင် လူ့လောက မှာ မရှိတော့ဘူးလို့ သတ်မှတ်လိုက်"

"ဒါသက်သက်ညစ်တာ... ကောင်းပြီး မင်းလာဖြစ်အောင်လာခဲ့"

"မရဘူး...ချစ်တယ်လို့ အရင်ပြော"

"အင်း ဟုတ်ပါပြီး... ချစ်တယ် ချစ်တယ်"

"ကျော်မင်းခ ထက် ပိုချစ်တယ်ပြော"

"ဟာကွာ..."

"ပြောပါကွာနော်...နော်... ငါ့ကို သနားပါ"

"အင်း ဟုတ်ပြီး မင်းသာ ငါ့အတွက် အချစ်ဆုံး..."

"ဟေး......"

XXXXXX

(နိုင်လင်း)

ကျနော်ရဲ့ ချစ်ခြင်းသည် နားလည်စပြုလာသောအခါ၊ ကျနော့် အချစ်များသည် သနားသည့်ဘက်ကို အားသာသွားသည်။ ကျနော် ပိုပြီး ခင်တွယ် မြတ်နိုးလာသူကတော့ စိုင်းမွန်လှကို ဖြစ်နေပါတော့ သည်။

အထိတွေ့ထက် သာယာတတ်သော နားလည်မှုပေးသော စိုင်းမွန်လှ ကို ကျနော် မြတ်နိုးသွားသည်မှာ လွန်မယ် မထင်တော့ပါ။ ကျနော်ရဲ့ ခံစားချက်ကို လိုက်လျောရလျှင် အထင်ကြီးလေးစားခြင်းသည် အားကျခြင်းဖြစ်မည်။ စိတ်သဘော နှစ်ခြိုက်မှုသည် တုယူလိုက်မှား ခြင်းဖြစ်မည်။ ကျနော်၏ မိုက်မဲစွာ ဇွတ်တိုး လာသည်ကတော့ ကျော်မင်းခကို ချစ်တာထက် စိုင်းမွန်လှကို ပိုမြတ်နိုးလာသည်။ ထိုကြောင့် သူတို့နှစ်ယောက်ကြားတွင် ကျနော် ဗီလိန်ဆန်ဆန် လုပ်ဆောင်တော့သည်။ စိုင်းမွန်လှကို သွေးထိုးသလိုနှင့် ကျော်မင်းခ ကို သွေးဆောင်ဖြားယောင် တော့သည်။ ကျော်မင်းခကို ဖေးမသလို နှင့် စိုင်းမွန်လှကို နားလည်နိုင်အောင် ကြိုးစားပေးလိုက်တော့သည်။ ကျနော် လုပ်ဆောင်ချက်သည် မကောင်းသည်ဟု သိရှိပါသော်လည်း ကျနော် ကိုယ်တိုင် ချစ်ခြင်းရဲ့ မိုက်မဲမှုကို ဇွတ်ဖန်တီးလိုက်တော့သည်။ ကျနော်ရဲ့ ပုက်ဖဲများကို ချပြလိုက်တော့သည်။ ကျနော်တို့ သုံးယောက်

ဆုံတွေ့ကြတော့ ကျနော် နှစ်ကိုယ်ခွဲ သရုပ်ဆောင်ခဲ့သမျှကို မျက်နှာချင်းဆိုင် ဖြေရှင်းလိုက်သော အခါတွင်... ရလဒ်ကတော့။။။။

= = = = = = = = = = = = =

(ကျော်မင်း၁)

ကျနော်သည် အတွက္ခများကို ရှေ့တန်းတင်ကာ တစ်ဘက်သား ခံစားချက်ကို မကြည့်နိုင်လောက်အောင် ကျနော် စိတ်များလွန်စွာမှ လောဘကြီးလာသောအခါ။

ကျနော်သည် နိုင်လင်းကို အရလိုချင်သလို ၊ စိုင်းမွန်လှကိုလဲ လက်မလွှတ်ချင်တော့ပါ။ စိုင်းမွန်လှ၏ နားလည်မှုအောက်တွင် ကျနော် ကျရှုံးသလို ၊ နိုင်လင်း၏ ဂရုစိုက်မှုအောက်တွင် ကျနော်ကိုယ်တိုင် အရည်ပျော်ခဲ့သည်။ ကျနော် ဗီဇအတိုင်း မရ. ရတာကိုမှ လိုချင်တတ်ခဲ့သည့် အဖြစ်များက ကျနော့်ကို ဂါးမျိုကုန်တော့သည်။ ကျနော်သည် နိုင်လင်းအချစ်ရဆုံးလည်း ဖြစ်ချင်သည်။ တစ်ချိန်ထဲမှာပင် စိုင်းမွန်လှ၏ အတွယ်တာရဆုံးလည်း ဖြစ်ချင်သည်။ သူတို့နှစ်ယောက်ကိုလည်း ကျနော့် ကမ္ဘာလေးမှာ အမြဲ ပိုင်ဆိုင်ချင်ပြန်သည်။ ကျနော်တို့ သုံးယောက် တူတူနေကြလျှင် ကျနော်တို့ ဘယ်လောက်တောင် ပျော်လိုက်ကြမည်လဲဟုပင် အတွေးမျိုးတွင်ပင် ကျနော် ပျော်ရွှင်ကာ လေထဲ၊ အတွေးကမ္ဘာလေးထဲတွင် အချစ်အိမ်လေးကို တည်ဆောက်နေတော့သည်။ ထို့ကြောင့် ဗီလိန်ဆန်ဆန် ကျနော် ကခဲ့တော့သည်။ စိုင်းမွန်လှကို အကြောင်းမျိုးမျိုးပြကာ နိုင်လင်းသည် ကျေးဇူးရှင်၊ သူ့အပေါ်တွင် ကျေးဇူးများဆပ်ရန်ဟု အကြောင်းများ

ဖန်တီးကာ ကျနော် ဇာတ်လမ်းကို ကျနော် ချရေးတော့သည်။ ကျနော်တို့ သုံးယောက်ဆုံကြတော့ ကျနော် ချစ်သူများကို ကျနော် ဖြစ်စေချင်သည့် အကြောင်းရာများကို ပြောပြပြီး ကျနော် တည်ဆောက်ချင်သည့် ကမ္ဘာလေးအား ပြောပြတော့မည်ဟု ချိန်းဆိုလိုက်တော့ ရလဒ်ကတော့ ။ ။ ။

= = = = = = = = = = = = =

(စိုင်းမွန်လှ)

ယုံကြည်ရာကို မြတ်နိုးစွာဖြင့် ကျနော်၏ ချစ်ခြင်းများသည် နောက်ဆုံး အဖြေတစ်ခုကတော့ ကျနော့်အတွက် ပြောစရာ စကားများ ရှားပါး ကုန်တော့သည်။ ကျနော်၏ ချစ်သူသည် ကျနော်အား ချိုးဖောက်ကာ သစ္စာပျက်ယွင်းမှုကို မြင်ရသောအခါ ကျနော်၏ စိတ်များသည် နာကျင်မှုကို ရှေ့ရောက်သွားတော့သည်။

ဒုတိယ တစ်ကြိမ် ကျနော် တိုင်ပင်ဖေါ်တိုင်ပင်ဖက်၊ ကျနော့်အပေါ် နားလည်ပေးသူ သူငယ်ချင်းကောင်း တစ်ယောက်ကလဲ ကျနော့်အား သစ္စာစကားကို ရှေ့ပြုပြီး ကျောနောက်ဓားဖြင့် ထိုးသွားသောအခါ၊ ကျနော်၏ နာကျင် ခံစားရသည့် အကြောင်းရာများက တိုးပွားလာ တော့သည်။

ကျနော်တို့ သုံးယောက် တွေ့သောအခါ

"ဘယ်လို... ထပ်ပြောပါ၊ နိုင်လင်းနဲ့ ခန့်လွန်းမောင်က တစ်ယောက်တည်း ဟုတ်လား"

"အင်းလေ ဟုတ်တယ် မင်းကို အံ့သြသွားအောင် ငါနဲ့ နိုင်လင်း တိုင်ပင်ပြီး လုပ်လိုက်တာ"

"...အံ့သြသွားအောင် ဟုတ်လား... မေးစမ်းပါရစေ မင်းက ငါ့အချစ်ကို အထင်သေးတာလား..."

"မဟုတ်သေးဘူးလေ.."

"တော်... ခင်များငါ်မပြောနဲ့ နိုင်လင်း ကျနော် မင်းခ ကိုမေးနေတာ ခင်များ ကျေးဇူးပြုပြီး ခဏလောက် နေပေးပါ ကျနော် တောင်းပန်ပါတယ်"

" ဘာဖြစ်နေတာလဲ မွန်လှရာ... ငါကတော့ မင်းတို့ နှစ်ယောက်နဲ့ တူတူနေချင်လို့ ဖန်တီးလိုက်တာလေ"

"ဖန်တီးလိုက်တာ ဟုတ်လား၊ တော်စမ်းပါ မင်းခရယ် နားကြား ကောင်းအောင် မပြောနဲ့ တစ်ခု မေးမယ် မင်းရော နိုင်လင်းရော ဒီ

သုံးယောက်ထဲက တစ်ယောက်ယောက်က ထွက်ပေးသွားရမှာပဲ မင်းတို့ကထားတဲ့ ဇတ်လမ်းကို ငါပြန်ဆက်ချင်တယ်၊ ဟုတ်ပြီး မင်းခ မင်းအရင်ဖြေ၊ မင်းငါ့ကို ချစ်လား"

"ချစ်တယ် ပြောမပြတတ်အောင်ကို ချစ်တယ်"

"ယုံပါတယ် မင်းချစ်တာကို...နောက်တစ်ယောက် တွေ့လဲ မင်းဒီစကား ပြောအုံမယ် ဆိုတာလဲ ယုံတယ်..."

"...ဟာကွာ...."

"...ကဲ နိုင်လင်း မင်းဖြေ.. မင်းငါ့ကို ချစ်လား..."

"...ချစ်တယ် အရမ်းချစ်တယ် "

"...ဘာကြောင့် ချစ်တာလဲ မင်းနဲ့ ငါ့ကြားမှာ မေးစရာ တွေရှိတယ်"

"...ချစ်တယ် ဆိုတာထက် မြတ်နိုးလာတာ၊ မင်းရဲ့ နားလည်မှုတွေက ငါ့အတွက် အားဆေးတစ်ခွက်လိုပဲ ငါမင်းကို လိုအပ်တယ်..."

" ကောင်းပြီး ဒါဆို အတိကျဖြေ၊ မင်းငါနဲ့ မင်းခ ကို တစ်ယောက်တည်း ရွေးရမယ်ဆိုရင်ရော"

စိုင်းမွန်လှ မေးခွန်းကို နိုင်လင်း ဖြေရခက်စေသည်။ သို့ပေမယ့် ဒီနေရာတွင် အဖြေမှန်ဖို့ထက် မမှားသော စကားကို သူပြောရတော့မည်။ ထိုကြောင့် နှလုံးသားကလာတဲ့ အသံကို အတည်ယူလိုက်သည်။ ကျော်မင်းခလဲ အသေးခြားကို ကြည့်နေသည်။ သူ့အဖြေကို စောင့်စားနေသည်။

"...စိုင်းမွန်လှကို ရွေးမယ်..."

"ဟော့ကောင် နိုင်လင်း မင်းက ဘာစကားလဲ"

"ငါမှန်တာပြောတာ ငါ့နှလုံးသားက လာတဲ့စကားပဲ ဟုတ်တယ် မင်းကို ငါ ချစ်ခဲ့တာမဟုတ်ဘူး ကျော်မင်းခ..."

"တောက်..."

ကျော်မင်းခရဲ့ နာကျင်ခံခက် သံများကတော့ စိုင်းမွန်လှ အတွက် နားချိုစေသည့် အသံများသာ။

"ကောင်းပြီး နိုင်လင်း မင်း ခဏတော့ ရှောင်ပေး ငါမင်းခနဲ့ ရှင်းပြီးရင် မင်းဆီလာခဲ့မယ် မင်း နည်းနည်းဝေးတဲ့ စားပွဲမှာ ထိုင်စောင့်နေပါ..."

ကျော်မင်းခ အံ့အားသင့်ကာ နိုင်လင်းကို ကြည့်နေမိသည်။ ပက်သက်သမျှ ပြန်ပြောသောလည်း တစ်ချို့စကားများကို သူမသိရ ပါလားဆိုတာ ခုမှ သဘောပေါက်လာသည်။ ကြားက နိုင်လင်း လုပ်စားသွားသည်ဟု သူစွတ်စွဲမိသည်။

"…မွန်လှ…"

"…ကျေးဇူးပြုပြီး မင်း ငါမေးတာပဲ ဖြေပေးပါ ဟုတ်ပြီးလား…"

"…အင်းပါ မင်း. . မေးပါ…"

"…မင်းငါ့ကို ချစ်ခဲ့တာ အနေနီးလို့လား ဒါမှ မဟုတ် အထိတွေ့ကြောင့် လား ၊ ငယ်ငယ်က သံယောဇဉ်ကြောင့်လား အသေချာ စဉ်းစားပြီးမှ ဖြေနော်…"

"အားလုံး ဟုတ်တယ် မင်းကို အရင်ကတည်းကလဲ ချစ်ခဲ့တယ်၊ ခုလည်း ပြိုင်ဘက်မရှိ ချစ်နေဆဲပဲ…"

"မင်း လောဘကြီးလွန်းတယ်.. မင်းစဉ်းစားမိရဲ့လား ငါ့ဘက်ကိုလေ နည်းနည်းလေးတောင် မင်းတွေးမိရဲ့လား၊ မင်းက ချစ်တယ် ချစ်တယ် ပြောနေပြီးတော့ ငါဘက်က မင်းကို ချစ်တယ်ဆိုတာ နူတ်က မပြောပဲ

သက်သေ ပြသခဲ့တယ် ဒါကိုတောင် မင်းလုပ်ရက်တယ် ၊ မင်းခရယ် ငါမှာတော့ မင်းကို ချစ်လိုက်ရတာ မင်းကတော့ ငါ့အချစ်ကို အလေး မထားပဲ အပျော်သဘော ချန်ထားခဲ့တယ် မင်းလုပ်ရပ်က ငါ့နှလုံးသား ကို ကွဲကြေစေတယ် နားလည်ရဲ့လား ...”

“ငါ.. ငါ သိပါပြီ... ငါ့ကို ခွင့်လွှတ်ပေးပါ တစ်ကြိမ် တစ်ခါမှားတာလေး ကိုတော့ ပြန်ပြီးလက်ခံပေးပါ။ မင်းငါ့ကို ချစ်နေတာကိုလဲ ငါသိတယ် ၊ မင်း ငါ့ကို မခွဲနိုင်ဘူးဆိုတာလဲ သိနေတယ် မင်းက ငါ့ရဲ့ တစ်ဦးတည်း သော ချစ်သူပဲ မွန်လှ ၊ ငါ.. ငါ.. တခဏတာ တွေ့ရတဲ့ အချစ်ကို သာယာ မိန့်မူးသွားတယ် ငါ့ကို နားလည်ပေးပါ ဒါနောက်ဆုံး ကြိမ်ပဲ ဖြစ်စေရမယ်လို့ ကတိပေးတယ်...”

“တော်တော့ မင်းခ မင်းရဲ့ စကားကို အယုံကြည်မရှိတော့ဘူး ၊ ပြီးတော့ ငါလဲ နိုင်လင်းကို မင်းမသိလိုက်တဲ့ အချိန်မှာပဲ ချစ်သွား ခဲ့တယ်။ မင်းပြောသလိုပေါ့ အချစ်က အရာရာပြောင်းလဲစေတယ်တဲ့ ၊ ပြီးတော့ မင်းက တော်တော်ကို မင်းကိုယ်မင်း အထင်ကြီးတာလဲ ပါတယ်၊ ဒါကြောင့် မင်းကို ငါစွန့်လွှတ်လိုက်တော့မယ် ၊ မင်းအနားမှာ လဲ ငါမနေတော့ဘူး ငါ့အနားလဲ မင်းမလာတော့နဲ့ ၊ မင်းနဲ့ ငါက ပေးခဲ့ပြီ၊ မင်းကိုလဲ ငါမချစ်တော့ဘူး မင်းကိုလဲ မုန်းလဲ မမုန်းဘူး၊

ဒါကြောင့် မင်းကို ငါဘာမှ ခံစားချက်မရှိပဲ နေလိုက်တော့မယ် တကယ်လဲ မရှိတော့ပါဘူး”

“ငါ ခွင့်မပြုဘူး...”

“မင်းခွင့်မပြုလည်း ငါဂရုမစိုက်ဘူး မင်းပြောတုန်းက ငါဘာကြောင့် မအံ့သြလဲ မင်းသိလား မင်းအကြောင်း အရာအားလုံး၊ နိုင်လင်းကနေ ခန့်လွန်းမောင် တွေရော ငါအားလုံးသိခဲ့တယ် ဘာကြောင့် သိခဲ့လဲ မင်းသိမှာပါ နိုင်လင်းဆိုတဲ့ မင်းချစ်သူဆီကလေ သူပြောလို့ သိခဲ့တာ...”

“ဘာကွ... မင်း...ဘာပြောတယ်.. ဒါဆို ငါ့ကို မင်းတို့ အရူးလုပ်လိုက်တာပေါ့ ဟုတ်လား...”

“ဟင်း ဟင်း.. ပညာလေး နည်းနည်းပါးပါး ပေးလိုက်တာပါ...”

“တောက်... မင်း... မင်း... တကယ်တော့ မင်းက နားလည်ပေးသလိုနဲ့ မြေးခွေးလို ကောက်ကျစ်တာပဲ...”

စိုင်းမွန်လှရဲ့ အကျီ င်္ကော်လံကို စောင့်ဆွဲပြီး မင်းခ ထိုးတော့မည့် အချိန်တွင် စိုင်းမွန်လှရဲ့ မထင်မဲ့မြင် အကြည့်များကို နာကျင်စွာ

ကြည့်လိုက်မိသည်။ ထိုနောက် နှလုံးသားများ အောင့်ကနဲနေအောင် ခံစားလိုက်ရသည်။ မင်းခ စိုင်းမွန်လှကို နာကျင်စွာ ကြည့်ပြီး ထိုဆိုင်ထဲမှ ထွက်ခွာလာခဲ့တော့သည်။ သူ့နောက်တွင်တော့ သူ့ အိမ်မက် ကမ္ဘာလေး ကျန်ခဲ့တော့သည်။ အလိုကြီး အရနည်းသည့် အဖြစ်သို့ မင်းခ ဘ၀ .......

"မွန်လှ ... ကျော်မင်းခ ပြန်သွားပြီးလာ မင်းမလာလို့ ငါစောင့်နေတာ ကြာတာနဲ့ မင်းတို့ စားပွဲကို လာခဲ့တာ..."

"သူပြန်သွားတာ မင်းမြင်တယ် မဟုတ်လား..."

"အင်း မြင်တယ်.. ဒီအချိန်မှာ ငါမေးရမယ့် အချိန်မဟုတ်မှန်း သိပေမယ့် အဖြေကိုတော့သိချင်နေတယ်"

"မင်းက ငါ့ကို ချစ်တယ်လို့ပြောလာတယ်နော်..."

"အင်းလေ.. ဟုတ်တယ်လေ မင်းကို ငါချစ်နေတယ်...

"ငါတော့ မင်းကို မချစ်ဘူး... ..."

"ဟင်. မင်းငါ့ကို ဖုန်းထဲမှာ..."

"ဖုန်းထဲက စကားတွေက လေထဲမှာလေ ..."

"မဟုတ်ဘူး"

"မင်းလက်ခံလိုက်ပါ။ ငါချစ်တာက မင်းခကိုပဲ ဒါပေမယ့် ငါ့အချစ်တွေကို သဂြိုလ်လိုက်ပြီး.. ငါ့ရဲ့ လုပ်ဆောင်ချက်က မတရားရာကျနေပေမယ့် ဒီတစ်ခါတော့ ငါ့ကို ဗီလိန် နေရာမှာ နေခွင့်ပြုပါ။ ငါမင်းခကို စွန့်လွှတ်လိုက်သလို မင်းလဲ ကပ်ခွင့်မရအောင် ငါလုပ်ခဲ့တာတွေကိုတော့ မင်း သဘောဆန္ဒအတိုင်းပေါ့ ခွင့်မလွှတ်ပဲ ထားလိုက်ပါ"

"ဒါဆို မင်း.. မင်း သက်သက် ယုတ်မာတာ..."

"အဲ့ဒီအတွက် ငါဖြေရှင်းချက် ပေးမှာမဟုတ်ဘူး နိုင်လင်း ၊ မင်းလဲ ငါ့ကို ချစ်တာမဟုတ်ဘူး ငါ့စကားမှာ မင်းသာယာနေတာ ၊ ခြံခုန်ဖူးတဲ့နွားက နောက်တစ်ကြိမ်ခုန်မယ်ဆိုတာ မပြောပဲ လူတိုင်းသိရှိကြတယ်၊ မင်းလဲ မင်းခကို မရသလို ငါလဲ မင်းခကို မရပါဘူး ဒါက ငါ့ရဲ့ အတ္တပဲလေ.. ငါ မင်းကို မမုန်းဘူး နိုင်လင်း ဒါပေမယ့် ချစ်လို့လဲ မရဘူး၊ ...ငါ ဂမ်းနည်းဆုံးကတော့ ငါ့အချစ်တွေကိုပဲ ငါနမြောတယ် ငါ့အချစ်တွေနဲ့ မင်းတို့ နှစ်ယောက်လုံးနဲ့ မတန်ဘူး ဒါကြောင့် ငါ့ ဒီအတိုင်းပဲ ဗီလိန်လုပ်လိုက်တာ၊ ထိုကြောင့်လဲ ငါ့ကို မုန်းလိုက်တော့"

ဒုန်း…

နိုင်လင်း စားပွဲခုံကို လက်သီးဖြင့် ထိုးကာ စိုင်းမွန်လှကို စိမ်းစိမ်းစိုက်ကြည့်နေပါတော့သည်။

= = = =

ရလဒ်…

ကျနော် စိုင်းမွန်လှသည် နာကျင်တတ်သည်။ ကျနော် ခံစားသလို သူတို့လဲ ခံစားစေချင်သည်။ ကျနော့်ကိုယ် ကျနော်လဲ မုန်းမိသည်။ ထို အရာသည် လက်စားချေသည်ဟုဆိုလျှင် ကျနော် သူတို့အားလက်စား ချေခဲ့သူ တစ်ယောက်ဖြစ်ပါတော့မည်။

ဗီလိန် ကျနော်၊ ကျနော် ဗီလိန် ပင်ဖြစ်ပါတော့သည်။

………………..ပြီးပါပြီ………………..